Inno Power Co., Ltd. မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း
အဆင့်မြင့်ပညာရေးဝန်ဆောင်မှုလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | ၁၉-၃-၂၀၁၉ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့တင်ပြခြင်း | ၁၂/၂၀၁၉ (၂၅-၃-၂၀၁၉) | | |
| ၃ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပညာရေးဝန်ကြီးဌာန | ၃-၄-၂၀၁၉ | ၁၀-၄-၂၀၁၉ | |
| ၄ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၁၁-၄-၂၀၁၉ | | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြ ရမည့်အချက်များ အကြောင်းကြားခြင်း | ၁၁-၄-၂၀၁၉ | | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၈/၂၀၁၉ (၂၉-၅-၂၀၁၉) | | |
| | စုစုပေါင်းကြာမြင့်ရက် | (၆၉) ရက် | | |

အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည်  Inno Power Co., Ltd.

လုပ်ငန်းအမျိုးအစား  အဆင့်မြင့်ပညာရေးဝန်ဆောင်မှုလုပ်ငန်း

PAT အကြိမ်/ ရက်စွဲ  ၁၂/၂၀၁၉ (၂၅-၃-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✔) မပြီး(X) | မှတ်ချက် |
|---|---|---|---|
| ၁ | လုပ်ငန်းအမျိုးအစားကို အဆင့်မြင့်ပညာရေးဝန်ဆောင်မှု လုပ်ငန်းဟု ပြင်ဆင်ရန်။ | ✔ | |
| ၂ | မြေပိုင်ဆိုင်မှုဂရန်အထောက်အထား တင်ပြပေးရန်။ | ✔ | |
| ၃ | လစာနှုန်းထားနှင့်ဝန်ထမ်းအင်အား တို့ကို ပြန်လည်ပြင်ဆင် ရန်။ | ✔ | |
| ၄ | ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ ဆွဲထားသည့် မြေပုံနှင့် မြေပိုင်ဆိုင်မှု အထောက်အထားတင်ပြပေးရန်။ | ✔ | |

**အကြောင်းအရာ။** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Inno Power Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အဆင့်မြင့်ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - Inno Power Co., Ltd.<br>- ဦးကျော်သူအောင်<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- အဆင့်မြင့်ပညာရေးဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီးနှင့် မန္တလေးတိုင်းဒေသကြီး |
| ၃။ | မြေ/ အဆောက်အဦပိုင်ရှင်<br>မြေ/အဆောက်အဦ<br>အကျယ်အဝန်း | - ဦးခွန်ဦး၊ ဦးအောင်အောင်၊ ဦးတင်မောင်ဆွေ၊ ဒေါ်သီရိခေတ်<br>- ၄၆၈၀ စတုရန်းပေ၊ ၆၀၀၀ စတုရန်းပေ၊ ၃၃၀၀ စတုရန်းပေ၊ ၂၃၉၅၀ စတုရန်းပေရှိ ၄ ထပ်အဆောက်အဦ၊ ၆၁၂၉ စတုရန်းပေ |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>**ထည့်ဝင်မည့်အမျိုးအစား**<br>ငွေသား<br>မြေ/ အဆောက်အအုံ<br>ငှားရမ်းခ(တစ်နှစ်)<br>ပရိဘောဂနှင့်လုပ်ငန်းသုံး<br>ပစ္စည်း | **ကျပ် ၂,၀၀၀.၀၀၀ သန်း**<br>**ကျပ် (သန်း)**<br>၁,၂၉၇.၁၉၆<br>၃၉၂.၈၀၄<br><br>၃၁၀.၀၀၀<br><br>**၂,၀၀၀.၀၀၀** |
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု(ပထမနှစ်) | (see table below) |

| စဉ် | အမျိုးအမည် | ကျောင်းသား ဦးရေ | ကာလ (နှစ်) | ဝန်ဆောင် ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | Wrexham Glyndwr (MBA) | ၄၈ | ၃ | ၈,၄၇၀,၀၀၀ |
| (ခ) | UCSI University (MBA) | ၅၄ | ၃ | ၆,၉၃၀,၀၀၀ |

| | | | | | | |
|---|---|---|---|---|---|---|
| | | (ဂ) | IQN Diploma in Human Resource Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| | | (ဃ) | IQN Diploma in Hospitality Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| | | (င) | IQN Diploma in Business Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| | | (စ) | IQN Diploma in Supply Chain Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| | | (ဆ) | IQN Diploma in Marketing Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| | | (ဇ) | IQN Certified Strategic Manager | ၉၆ | ၃ | ၂၀၀,၀၀၀ |
| | | (ဈ) | IQN Certified Project Management Analyst | ၉၆ | ၃ | ၂၀၀,၀၀၀ |
| | | (ည) | ICM Single Subject Diploma in Human Resource Development I | ၉၆ | ၃ | ၂၀၀,၀၀၀ |
| | | (ဋ) | ICM Single Subject Diploma in Financial Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| | | (ဌ) | ICM Single Subject Diploma in Business Management and Administration | ၉၆ | ၃ | ၂၀၀,၀၀၀ |
| | | (ဍ) | ICM Single Subject Diploma in Sales and Sales Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| | | (ဎ) | ICM Single Subject Diploma in Public Relationship | ၉၆ | ၃ | ၂၀၀,၀၀၀ |
| | | (ဏ) | ABE Executive Diploma in | ၉၆ | ၃ | ၁၅၀,၀၀၀ |

| | | | | | | |
|---|---|---|---|---|---|---|
| | | | Financial Management | | | |
| | | (တ) | ABE Executive Diploma in Sales and Sales Management | ၉၆ | ၃ | ၁၅၀,၀၀၀ |
| | | (ထ) | ABE Certified Quality Director | ၉၆ | ၃ | ၁၅၀,၀၀၀ |
| | | (ဒ) | ABE Certified Business Administrator | ၉၆ | ၃ | ၁၅၀,၀၀၀ |
| | | (ဓ) | ABE Human Resource Professional (CHRP) | ၉၆ | ၃ | ၁၅၀,၀၀၀ |
| | | (န) | OTHM Level 5 Diploma in Business Management | ၂၀ | ၂ | ၅၀၀,၀၀၀ |
| | | (ပ) | SHRM Diploma in International Business Management | ၄၈ | ၃ | ၁,၂၀၀,၀၀၀ |
| | | (ဖ) | PMC(SHRM) Certificate in Foundation | ၈၈ | ၄ | ၃၀၀,၀၀၀ |
| ၈။ | ဝန်ထမ်းခန့်ထားမှု | **သင်ကြားရေး**<br><br>\| \| **ပြည်တွင်း** \| **ပြည်ပ** \|<br>**ဦးရေ** ၂၉ ဦး / ၃ ဦး<br>**အမြင့်ဆုံးလစာ(ကျပ်)** ၆၀၀,၀၀၀ / ၁,၀၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ(ကျပ်)** ၃၈၀,၀၀၀<br><br>**စီမံခန့်ခွဲရေး**<br><br>\| \| **ပြည်တွင်း** \| **ပြည်ပ** \|<br>**ဦးရေ** ၁၃ ဦး / မရှိပါ။<br>**အမြင့်ဆုံးလစာ(ကျပ်)** ၁,၅၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ(ကျပ်)** ၁၅၀,၀၀၀ | | | | |

| | | |
|---|---|---|
| ၉။ | အခြားတင်ပြချက် | - Inno Power Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ အမျိုးသားပညာရေးဥပဒေ လိုက်နာမည့် ဝန်ခံချက်၊ ဆရာ/မများ၏ ပညာအရည်အချင်း အထောက်အထားများအား တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် မြန်မာ့စီးပွားရေးဘဏ် တွင် ဦးကျော်သူအောင် အမည်ဖြင့် ၂၀-၁၁-၂၀၁၈ ရက်စွဲတွင် ကျပ် ၂၀,၀၀၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်များအား တင်ပြထားပါသည်။<br>- Inno Power Co., Ltd. မှ ဖွင့်လှစ်ထားသည့် Myanmar International Business Academy နှင့် Princeton Management College တို့ ပညာရေးဆိုင်ရာ အပြန်အလှန် ထောက်ပံ့ပေးရန် ချုပ်ဆိုထားသည့် Collaboration Agreement တင်ပြထားပါသည်။<br>- Princeton Management College နှင့် Shrm College (Singapore) တို့ ချုပ်ဆိုထားသည့် Collaboration Agreement နှင့် Glyndwr University (UK) နှင့် ချုပ်ဆိုထားသည့် Memorandum of Agreement တင်ပြထားပါသည်။<br>- Myanmar International Business Academy နှင့် UCSI University (Malaysia) တို့ချုပ်ဆိုထားသည့် Memorandum of Agreement နှင့် The Institute of Commercial Management (UK) မှ ခွင့်ပြုပေးထားသည့် ICM Approved Centre Status တင်ပြထားပါသည်။<br>- သင်ကြားမည့် ဆရာ/ဆရာမများ၏ ပညာအရည်းအချင်း အထောက်အထားများအား တင်ပြထားပါသည်။<br>- ပေးအပ်ချီးမြှင့်မည့် Diploma၊ Certificate နမူနာများ၊ သင်ရိုးညွှန်းတမ်းနှင့် သင်ကြားပေးမည့် အစီအစဉ်များအား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။<br>- ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။<br>- ကုမ္ပဏီသည် ၂၀၁၅ ခုနှစ်မှစ၍ ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်လျက်ရှိသော လုပ်ငန်းဖြစ်ကြောင်း တွေ့ရှိရပါသည်။ |

**ကန့်သတ်**

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(အ)/ခ-၀၃၃/ ၂၀၁၉( ၂၅၉ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ် မေလ ၂၂ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Inno Power Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆင့်မြင့်ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် **Inno Power** Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီးနှင့် မန္တလေးတိုင်းဒေသကြီးတို့တွင် အဆင့်မြင့်ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ **Inno Power** Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်များ၊ မြေပိုင်ဆိုင်မှုအထောက်အထားများ၊ သင်ရိုးညွှန်းတမ်းနှင့် ဆရာ၊ ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများအား ပူးတွဲ တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၂,၀၀၀.၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း တိုင်းဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|
| ငွေသား | ၁,၂၉၇.၁၉၆ |
| မြေ/အဆောက်အဦ ငှားရမ်းခ | ၃၉၂.၈၀၄ |
| ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများတန်ဖိုးပမာဏ | ၃၁၀.၀၀၀ |
| **စုစုပေါင်း** | **၂,၀၀၀.၀၀၀** |

၄။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၂၉ ဦးနှင့် ပြည်ပဝန်ထမ်း ၃ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၈၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၁၃ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပါသည်။

**ကန့်သတ်**

၅။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးနေသည့် သင်တန်းအမျိုးအမည်နှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ကျောင်းသားဦးရေ | ကာလ (နှစ်) | ဝန်ဆောင်ခနှုန်း(ကျပ်) |
|---|---|---|---|---|
| (က) | Wrexham Glyndwr (MBA) | ၄၈ | ၃ | ၈,၄၇၀,၀၀၀ |
| (ခ) | UCSI University (MBA) | ၅၄ | ၃ | ၆,၉၃၀,၀၀၀ |
| (ဂ) | IQN Diploma in Human Resource Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| (ဃ) | IQN Diploma in Hospitality Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| (င) | IQN Diploma in Business Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| (စ) | IQN Diploma in Supply Chain Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| (ဆ) | IQN Diploma in Marketing Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| (ဇ) | IQN Certified Strategic Manager | ၉၆ | ၃ | ၂၀၀,၀၀၀ |
| (ဈ) | IQN Certified Project Management Analyst | ၉၆ | ၃ | ၂၀၀,၀၀၀ |
| (ည) | ICM Single Subject Diploma in Human Resource Development I | ၉၆ | ၃ | ၂၀၀,၀၀၀ |
| (ဋ) | ICM Single Subject Diploma in Financial Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| (ဌ) | ICM Single Subject Diploma in Business Management and Administration | ၉၆ | ၃ | ၂၀၀,၀၀၀ |
| (ဍ) | ICM Single Subject Diploma in Sales and Sales Management | ၉၆ | ၃ | ၂၀၀,၀၀၀ |
| (ဎ) | ICM Single Subject Diploma in Public Relationship | ၉၆ | ၃ | ၂၀၀,၀၀၀ |
| (ဏ) | ABE Executive Diploma in Financial Management | ၉၆ | ၃ | ၁၅၀,၀၀၀ |
| (တ) | ABE Executive Diploma in Sales and Sales Management | ၉၆ | ၃ | ၁၅၀,၀၀၀ |
| (ထ) | ABE Certified Quality Director | ၉၆ | ၃ | ၁၅၀,၀၀၀ |
| (ဒ) | ABE Certified Business Administrator | ၉၆ | ၃ | ၁၅၀,၀၀၀ |
| (ဓ) | ABE Human Resource Professional (CHRP) | ၉၆ | ၃ | ၁၅၀,၀၀၀ |
| (န) | OTHM Level 5 Diploma in Business Management | ၂၀ | ၂ | ၅၀၀,၀၀၀ |
| (ပ) | SHRM Diploma in International Business Management | ၄၈ | ၃ | ၁,၂၀၀,၀၀၀ |
| (ဖ) | PMC(SHRM) Certificate in Foundation | ၈၈ | ၄ | ၃၀၀,၀၀၀ |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ပညာရေးဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကိုထောက်ခံပါကြောင်းသဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ)**

၇။ ငွေကြေးအထောက်အထားအဖြစ် မြန်မာ့စီးပွားရေးဘဏ်တွင် ဦးကျော်သူအောင်အမည်ဖြင့် ၂၀-၁၁-၂၀၁၈ ရက်စွဲတွင် ကျပ် ၂၀,၀၀၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) Inno Power Co., Ltd. မှ ဖွင့်လှစ်ထားသည့် Myanmar International Business Academy နှင့် Princeton Management College တို့ ပညာရေးဆိုင်ရာ အပြန်အလှန် ထောက်ပံ့ပေးရန် ချုပ်ဆိုထားသည့် Collaboration Agreement တင်ပြထားကြောင်း တွေ့ရှိရပါသည်။

(ဃ) Princeton Management College သည် Shrm College (Singapore) နှင့် Collaboration Agreement ချုပ်ဆိုထားကြောင်းနှင့် Glyndwr University (UK) နှင့် Memorandum of Agreement ရေးထိုးထားကြောင်း တွေ့ရှိရပါသည်။

(င) Myanmar International Business Academy သည် UCSI University (Malaysia) နှင့် Memorandum of Agreement ရေးထိုးထားကြောင်းနှင့် The Institute of Commercial Management (UK) မှ ခွင့်ပြုပေးထားသည့် ICM Approved Centre Status ရရှိထားကြောင်း တွေ့ရှိရပါသည်။

(စ) ကုမ္ပဏီသည် ၂၀၁၅ ခုနှစ်မှစ၍ ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်လျက်ရှိကြောင်း တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Inno Power Co., Ltd. မှ အဆင့်မြင့်ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

၂၂/၁/၁၉

ဥက္ကဋ္ဌ (ကိုယ်စား)

(သန့်စင်လွင်၊ ခေတ္တအတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

| | |
|---|---|
| ဝင်စာအမှတ် | M4-1653 |
| ရက်စွဲ | 19.4.19 |

နောက်ဆက်တွဲ

NPT-1608
12-4-19

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပညာရေးဝန်ကြီးဌာန

## ဝန်ကြီးရုံး

စာအမှတ်၊ မူဝါဒ(သဘောထားမှတ်ချက်) ၉၀၆/၂၀၁၉(၂၃၀၃)

ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဧပြီလ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃-၄ -၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ၁ - ၀၃၃ / ၂၀၁၉ (၂၂၇)

(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)

(၃) ပညာရေးဝန်ကြီးဌာန၏ ၂၉-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (သဘောထား)/၂၀၁၈(၁၇၀၅၇)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Inno Power Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီးနှင့် မန္တလေးတိုင်းဒေသကြီးတို့တွင် အဆင့်မြင့်ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထား မှတ်ချက် ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ပါအချက်များနှင့် ကိုက်ညီမှုရှိ-မရှိ စိစစ်ဆောင်ရွက်ပြီး ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း ပညာရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါ စာဖြင့်လည်းကောင်း၊ အမျိုးသားပညာရေးမူဝါဒကော်မရှင်၏ သဘောထားမှတ်ချက်ကို ရည်ညွှန်း(၃)ပါစာဖြင့် လည်းကောင်း ပေးပို့ခဲ့ပြီးဖြစ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(၁) နိုင်ငံသား၊

(၂) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(၃) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့်အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိက ကျောင်းဆရာများ၏ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေး အတွေ့အကြုံ များနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိကကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံးနေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဍ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(၁) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများသည် ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိ ခြင်း၊

(၂) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(၃) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အထက်ဖော်ပြပါ အပိုဒ်(၂) (က)မှ (ထ)ရှိ အချက်အလက်များဖြင့် မဖြစ်မနေ စိစစ်ရန်နှင့် Inno Power Co., Ltd.၏ ပညာရေးဝန်ဆောင်မှုလုပ်ငန်းသည် နိုင်ငံတကာအသိအမှတ်ပြု ခိုင်မာမှု ရှိ-မရှိ စိစစ်ရန်လည်း လိုအပ်ပါသည်။

၄။ ပညာရေးဝန်ကြီးဌာနသို့ ဆက်သွယ်ဆောင်ရွက်လိုပါက အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်-

ဒေါက်တာကျော်နိုင်

ဒုတိယအမြဲတမ်းအတွင်းဝန်

ပညာရေးဝန်ကြီးဌာန

ဖုန်း- ၀၆၇ ၃၄၀၇၁၁၆

အီးမေးလ် - drkyawnaing2009@gmail.com

၅။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Inno Power Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီးနှင့် မန္တလေးတိုင်းဒေသကြီးတို့တွင် အဆင့်မြင့်ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်း၊ ပညာရေးဝန်ဆောင်မှု ဆိုင်ရာလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ထောက်ခံပါကြောင်းနှင့် ပညာရေးလုပ်ငန်း ခွင့်ပြုချက်ရရှိရန် အချိန်ယူစိစစ်ဆောင်ရွက်ရသည့်အတွက် ရက်ပေါင်း (၆၀) အတွင်း ပြန်ကြားရန်ခက်ခဲပါကြောင်း (အမျိုးသားပညာရေးဥပဒေ ပုဒ်မ - ၂ (ဓ) အရ အမျိုးသားပညာရေးမူဝါဒ ကော်မရှင်၊ အမျိုးသားအဆင့်အတန်းနှင့်အရည်အသွေးအာမခံမှု အကဲဖြတ်ရေးကော်မတီနှင့် ပါမောက္ခချုပ်များကော်မတီတို့၏ သဘောထားရယူရန် လိုကြောင်း၊) ပြန်ကြားအပ်ပါသည်။

Kyaw Naing
10-4-19.

ဒုတိယဝန်ကြီး (ကိုယ်စား)

( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ

မျှောစာတွဲ

memo (National School)